မျောလေးမျောသမိုင်းဝင်

ကျိုက်ထိုမြို့

ကျိုက်ပေါလော

# ရုပ်ရှင်တော် ဘုရားသမိုင်းအကျဉ်း



THE BRIEF HISTORY OF THE

# KYAIK-PAW-LAW IMAGE

KYAIKTO, MON STATE,

MYANMAR .

မျှောလေးမျှော သမိုင်းဝင်

ကျိုက်ထိုမြို့

# ကျိုက်ပေါလော

# မှဲ့ရှင်တော် ဘုရားသမိုင်းအကျဉ်း

---

THE BRIEF HISTORY OF THE

# KYAIK-PAW-LAW IMAGE.

KYAIKTO, MON STATE,

MYANMAR.

1A -

( ၂ )

## ပုံနှိပ်မှတ်တမ်း


တမူခွင့်ပြုအမှတ် (၆၅/၉၉)(၉)

မျက်နှာဖုံးခွင့်ပြုအမှတ် (၁၅/၉၉)(၁၀)

မျက်နှာဖုံးနှင့်အတွင်းသဘာရိုက်

ဦးသိန်းထွန်း (၀၄၈၂၂)
သိန်းထွန်းအော့ဖ်ဆက်၊
၅၀-၅၂၊ ဒဂုံသီရိလမ်း၊
ကျောက်မြောင်းကြီးရပ်ကွက်၊
တာမွေမြို့နယ်၊ ရန်ကုန်မြို့။

ပုံနှိပ်ခြင်း ဒုတိယအကြိမ်၊ အုပ်ရေ ၁၀၀၀

ထုတ်ဝေခြင်း ၁၉၉၉ ခု၊ နိုဝင်ဘာလ၊

ထုတ်ဝေသူ ဦးအောင်ကြီး (မြဲ ၀၉၈၆)
ရွှေပုရိုက်စာပေ၊
၅၊ တင့်ဆန်းလမ်း၊ ဥက္ကာလမ်း၊
ရန်ကုန်မြို့။

တန်ဖိုး - - - -

ကွန်ပျူတာစာစီ ပန်းကုံ့ကော်
ကွန်ပျူတာစာစီလုပ်ငန်း၊
အမှတ် (၂၁၇)၊ ၃၂-လမ်း(အထက်)၊
ရန်ကုန်မြို့။

# အမှာစာ

ကျိုက်ထိုမြို့ ကျိုက်ပေါ်လောမဲ့ရှင်တော် ဘုရားသမိုင်း အကျယ်တွင် သမိုင်းပြုစုသူ စစ်တောင်းမြို့ အလယ်တန်းကျောင်းအုပ် ဆရာကြီး ဦးစိုးနိုင် (စိုးရာဇာ)က၊ ဘုရားတည်ရှိရာ ကျိုက်ထိုမြို့ နောက်ခံသမိုင်း။ သုဝဏ္ဏဘူမိ မြို့ဟောင်း နောက်ခံသမိုင်း။ ရှေးခေတ် မွန်လူမျိုးတို့အကြောင်း။ သုဝဏ္ဏဘူမိသို့ သာသနာ ရောက်ရှိလာပုံအကြောင်း စသည် တို့ကို သိမှတ်ဖွယ်ရာ အဖြာဖြာနှင့် စုံလင်စွာ ရေးသား ခဲ့ပါသည်။

သို့သော် တာဝန်အသီးသီးကို ထမ်းဆောင် နေကြသော နိုင်ငံဝန်ထမ်း အကြီးအကဲများ။ လူမှုရေး စီးပွားရေး တို့ဖြင့် မအားမလပ်သည့် ပုဂ္ဂိုလ်များ သည် ဘုရားသမိုင်း အကျယ်ကို ဖတ်ရှုရန် အချိန်ပေးနိုင်ကြမည် မဟုတ်ပေ။

ထို့ကြောင့်ဘုရားသမိုင်းကိုအကျဉ်းချုံး၍ ကမ္ဘာလှည့်ခရီးသည်များပါ ဖတ်ရှု လေ့လာနိုင်ရန် အင်္ဂလိပ်မြန်မာ နှစ်ဘာသာဖြင့် ဂေါပကအဖွဲ့အတွင်း ရေးမှူး ဦးအေးမောင်က ပြန်ဆိုရေးသား ထားပါသည်။

ဤဘုရားသမိုင်းအကျဉ်းကို ရိုက်နှိပ်ခြင်း၏ အကျိုးအမြတ်သည် တစ်ဦးတစ်ယောက်၏ အကျိုးစီးပွား မဟုတ်ပါ။ ကျိုက်ပေါလော မုဲ့ရှင်တော် ဘုရား၏ အထွေထွေဘဏ္ဍာ ဖြစ်ပါသဖြင့် ဝယ်ယူဖတ်ရှုသူတို့၏ ကုသိုလ်ဒါနသာ ဖြစ်ပါ သည်။

ဂေါပကအဖွဲ့

( ၅ )

# ဂေါပကအဖွဲ့၏ အဓိဋ္ဌာန်

ဘုရားဘဏ္ဍာ၊
ငွေဥစ္စာကို၊
ပမာအဆိပ်၊
မှတ်ယူစိမ့်၏။

သင့်ရာမသိ၊
စားသုံးမိက၊
ရဲသည့်သံပူ၊
ဝါးမျိုဟူ၏။

အဆိပ်သံပူ၊
ခွဲမှတ်ယူ၍၊
ကြည်ဖြူသဒ္ဓါ၊
သာသနာအကျိုး
ဆထက်တိုးအောင်၊
သယ်ပိုးရွက်ဆောင်ပါလေမည်။

အေးမောင်
ဂေါပကအဖွဲ့ အတွင်းရေးမှူး

# ဓမ္မလက်ဆောင်

**သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ**

အလှူဒါန ဟူသမျှတွင်
ဓမ္မအလှူ မြတ်ဆုံးဟူ၏

(၁) မကောင်းမှုရှောင်၊
ကောင်းမှုဆောင်၍၊
ဖြူအောင်စိတ်ထား
မြတ်ဘုရားတို့၊
ဟောကြားမိန့်ဟာ၊
မြတ်ဓမ္မသည်၊
သီလ ဘာဝနာ
တစ်ဖြာဒါန
ဤသုံးဝတည်း။ ။

(၂) မြတ်စွာ ဗုဒ္ဓ၊
ဆုံးအမကို၊
နေ့ညမပြတ်၊
ကျင့်ကြံမှတ်က၊
ဆတ်ဆတ်ဧကန်၊
မြတ်မဂ်ဉာဏ်သည်
အမှန်မလွဲ၊
ဆင့်ဆင့်ကဲ၍
မစွဲသူငါ
ဒိဋ္ဌိကွာသည်
သေချာနိဗ္ဗာန်
ရောက်ကြောင်းတည်း။ ။

ဦးအေးမောင် (ကျိုက်ဆီ)

( ၇ )

# ကျိုက်ထိုမြို့
# ကျိုက်ပေါလော မုဲ့ရှင်တော်ဘုရား
# သမိုင်းအကျဉ်း

ကျိုက်ပေါလော မုဲ့ရှင်တော်ဘုရားသမိုင်းသည် မြတ်စွာဘုရား ပရိနိဗ္ဗာန်ဝင်စံတော်မူပြီး နှစ်ပေါင်း ၂၂၀ အကြာ အိန္ဒိယပြည်တွင် သီရိဓမ္မာသောကမင်းကြီး တတိယ သင်္ဂါယနာ တင်သည့် အချိန်မှ စခဲ့သည်ဟု ဆိုရပါမည်။

မင်းကြီးသည် အကျင့်သိက္ခာနှင့်မညီသော ရဟန်းများကို သာသနာတော်မှ ဖယ်ရှားတော်မူပြီး အရှည်သန့်ရှင်းတည်တံ့ ပြန့်ပွားစိမ့်သောငှာ အရှင်မဟာ မောဂ္ဂလိ ပုတ္တတိဿ မထေရ်အား အကြီးအမှူးပြု၍ ပိဋကတ် ကျမ်းဂန်၌ ကျွမ်းကျင်လိမ္မာသော ရဟန်းတော် အပါး တစ်ထောင်ကို ရွေးချယ်တော်မူ၏။ ဤနောက် တတိယသင်္ဂါယနာတင်ပွဲကြီးကို ပါဋလိပုတ်ပြည် အာသောကာရာမ ကျောင်းတိုက်ကြီး၌ ကိုးလ တိုင်တိုင် ကျင်းပတော်မူသည်။

ထိုမျှမကသေး မင်းကြီးသည် ရှင်မဟာ မောဂ္ဂလိပုတ္တတိဿမထေရ်ကြီးနှင့် တိုင်ပင်ကာ အခြားနိုင်ငံများတွင် သာသနာ ပြန့်ပွားစေခြင်းငှာ ကိုးတိုင်း၊ ကိုးဌာနသို့ သာသနာပြုအဖွဲ့များ စေလွှတ်တော်မူသည်။ တစ်ဖွဲ့လျှင် ရဟန္တာ (၅) ပါးစီ ပါဝင်စေပြီး သားတော် အရှင်မဟိန္ဒ

( ၈ )

ဦးဆောင်သောအဖွဲ့သည် ယခုအခါသီရိလင်္ကာ ဟုခေါ်သောသီဟိုဠ်ကျွန်းသို့ရောက်ရှိတော်မူသည်။

{ မြန်မာနိုင်ငံ သုဝဏ္ဏဘူမိ သထုံပြည်သို့ လည်း အရှင်သောဏ နှင့် အရှင်ဥတ္တရ မထေရ် နှစ်ပါး ဦးဆောင်သောအဖွဲ့ ရောက်ရှိလာသည်။ မြန်မာနိုင်ငံတွင် ကြီးမားသော သာသနာပြု လုပ်ငန်းများကို ဆောင်ရွက်တော်မူကြသည်။

ရဟန္တာ ၇နှစ်ပါးသည်ကျိုက်ထိုမြို့မြောက် ဘက် တစ်မိုင်ခန့်အကွာ မောရတောင် (ယခု ဘုရားသုံးဆူတောင်)တွင် သောဏစေတီ၊ ဥတ္တရ စေတီနှင့် အရှင်နှစ်ပါးပေါင်း၍ သောဏုတ္တရ စေတီဟူ၍ စေတီသုံးဆူကို တည်ထားတော် မူသည်။ ၎င်းစေတီ သုံးဆူကို အစွဲပြု၍ ယခုအခါ ဘုရားသုံးဆူတောင်ဟု ခေါ်တွင်သည်။

ရဟန္တာ ၁၂ပါးသည် ဘီးလင်းမြို့မြောက် ဘက် ခြောက်မိုင်ခန့် အကွာရှိ သာယာလှပ သော ကုသိနာရုံတောင်ပေါ်တွင် ပရိနိဗ္ဗာန် စံဝင်တော်မူကြသည်။ ပရိနိဗ္ဗာန်စံဝင်တော်မူ သော ရုပ်ကလာပ်တော်များကို အသစ်ပြုပြင်ထား သော ဂန္ဓကုဋီတိုက်တွင် ထားရှိပြီး ဒေသခံ လူများနှင့် ရပ်နီးရပ်ဝေး ဘုရားဖူးများက လာရောက်ဖူးမြော်ကြသည်။ }

ထိုအချိန်က သီဟိုဠ်ကျွန်းနိုင်ငံကို ဒေဝါနံ ပိယတိဿမင်းကြီး စိုးစံတော်မူသည်။ အရှင် မဟိန္ဒ ဦးဆောင်သော သာသနာပြုအဖွဲ့ ရောက်ရှိတော်မူလာသောအခါ မင်းကြီးသည်

မိမိကိုယ်တိုင်လည်း ဗုဒ္ဓဘာသာကို သက်ဝင် ယုံကြည်သည် ဖြစ်၍ ဝမ်းမြောက်ဝမ်းသာ ကြွဆိုတော်မူသည်။ မင်းကြီးနှင့် ရဟန္တာအရှင်မြတ်တို့သည် သာသနာပြု လုပ်ငန်းများကို အစဉ်အတိုင်း ဆောင်ရွက်တော်မူကြသည်။

တစ်နေ့တွင် မင်းကြီးသည် အခြားနိုင်ငံများမှ လူအပေါင်းတို့သည်လည်း ဗုဒ္ဓ ရုပ်ပွားတော်များကို ဖူးမြော်ပူဇော်ရပါလျှင် လောကီအကျိုး၊ လောကုတ္တရာ အကျိုးများ ရစေပြီး ဗုဒ္ဓဘာသာကို အလွန် သက်ဝင် ယုံကြည်လာကြလိမ့်မည်ဟု စဉ်းစားတော်မူသည်။

ထို့နောက် ဒေဝါနံပိယတိဿ မင်းကြီးသည် မိမိ၏ အကြံတော်ကို အရှင်မဟိန္ဒအားလျှောက်ထားရာ အရှင်မဟိန္ဒကလည်း ကောင်းမြတ်သော အကြံဖြစ်သဖြင့် သင့်တော်ကြောင်း မိန့်ကြားတော်မူသည်။ ထိုအခါ မင်းကြီးသည် ပန်းပုပညာရှင် အကျော်အမော်တို့အား ရုပ်ပွားတော်လေးဆူကို ထုလုပ်စေတော်မူသည်။ ပြီးစီးသောအခါ ရုပ်ပွားတော် လေးဆူတို့အား တိုင်းသူပြည်သားများ၊ နန်းတွင်းသူ နန်းတွင်းသားများနှင့်အတူ ရဟန်းတော်များအား ဆွမ်းလုပ်ကျွေးတော်မူလျက် (၁၅) ရက်တိုင်တိုင် ပူဇော်ပွဲကျင်းပတော်မူသည်။

ထို့နောက် မင်းကြီးသည် မိမိကြံရွယ်ထားသည့်အတိုင်း အခြားနိုင်ငံများမှ လူများပူဇော်ကိုးကွယ်နိုင်စေခြင်းငှာ လည်းကောင်း၊ ဗုဒ္ဓ

သာသနာတော်ပြန့်ပွားခြေင်းငှာလည်းကောင်း၊ ရုပ်ပွားတော်လေးဆူမှ တစ်ဆူကို ကျွန်းတုံး(ဖောင်)ပေါ်တွင်လည်းကောင်း၊ တစ်ဆူကို ပိန္နဲတုံး(ဖောင်)ပေါ်တွင်လည်းကောင်း၊ တစ်ဆူကို သက်နီးတုံး(ဖောင်)ပေါ်တွင်လည်းကောင်း၊ တစ်ဆူကို ကျောက်လှည်းဘီး (ဖောင်) ပေါ်တွင် လည်းကောင်း၊ အသီးသီးတင်ကာ စည်ကား သိုက်မြိုက်စွာ အခမ်းအနားဖြင့် သမုဒ္ဒရာအတွင်းသို့ အဓိဋ္ဌာန်ပြုကာ မျှောလွှတ်တော်မူလိုက်သည်။

ရုပ်ပွားတော်လေးဆူတို့သည် နတ်၊ သိကြားတို့၏ အစောင့်အရှောက်ဖြင့် သာသနာတော်ထွန်းကားရာ မြန်မာနိုင်ငံတော်သို့ ဆိုက်ရောက်လာကြသည်။

တစ်ဆူမှာ ကျိုက္ကမိ ကမ်းခြေသို့ ဆိုက်ရောက်ပြီး **"ကျိုက္ကမိ ရေလယ်ဘုရား"** ဘွဲ့တော်နှင့် ကျော်ကြားလျက်ရှိပါသည်။ ပွဲတော်မှာ သီတင်းကျွတ် လပြည့်မှ လပြည့်ကျော် (၅)ရက်နေ့အထိ ဖြစ်သည်။ မြန်မာပြည်အရပ်ရပ်မှ ဘုရားဖူးများ လာရောက်ဖူးမျှော်ကြသဖြင့် အလွန်စည်ကားသည်။ တစ်ဆူမှာ ထားဝယ်ကမ်းခြေသို့ ဆိုက်ရောက်ပြီး **"ရှင်မုဋ္ဌီး"** ဘွဲ့တော်ဖြင့် ကျော်ကြားလျက်ရှိသည်။ အခြားတစ်ဆူမှာ ပုသိမ်ကမ်းခြေသို့ ဆိုက်ရောက်ပြီး ပုသိမ်မြို့ ရွှေမုဋ္ဌောစေတီတော်ကြီး၏ အာရုံခံတန် ဆောင်း တစ်ခုအတွင်း **"သီဟိုဠ်ရှင် ဘုန်းတော်ပြည့်ဘုရား"** ဘွဲ့တော်ဖြင့် ကိုးကွယ်ပူဇော်ထားသည်။

ကျောက်လုည်းဘီးဖြင့် မျောလာသော ကျွန်တစ်ဆူမှာ မွန်ပြည်နယ်၊ ကျိုက်ထိုမြို့ ကျိုက်ပေါလော မုံ့ရှင်တော်ဘုရားဖြစ်ပါသည်။ ဘွဲ့တော်ကို မူလက **"ကျိုက်ပေါလောဘုရား"**၊ နောက် ပကတိမျက်စေ့ကဲ့သို့ ကြည်လင်တောက်ပသော မျက်လုံးတော်ကို အစွဲပြု၍ **"ကျိုက်ပေါလော မျက်ရှင်တော်ဘုရား"**၊ နောက်လက်ျာဘက် နားထင်ပေါ်တွင်ရှိသော မှဲ့တော်ကို အစွဲပြု၍ **"ကျိုက်ပေါလော မှဲ့ရှင်တော်ဘုရား"** ဟူ၍ အမျိုးမျိုးပြောင်းလဲခေါ်ဝေါ် ပူဇော်ကြသည်။

ယခု ဂေါပကအဖွဲ့သည် ၁၉၈၈ ခု အစပိုင်းမှ ၁၉၉၉ ခု မတ်လအထိ (၁၁) နှစ်ကာလအတွင်း အလှူငွေ စုစုပေါင်း (၃၄၆) သိန်းကို ရရှိခဲ့ပါသည်။

မြို့ခံအလှူရှင်များ၊ အနယ်နယ်အရပ်ရပ်မှ အလှူရှင်အပေါင်းတို့၏ ဤအလှူဒါနဖြင့် ရွှေသား ပလ္လင်တော်ကြီး၊ ဂန္ဓကုဋိတိုက်ကြီး၏ ရွှေသားမျက်နှာကျက်တော်နှင့် ရွှေသားနံရံများ (ယခုပြုပြင်ဆဲ)ကို မြန်မာအနုပညာလက်ရာအလှ အပ တို့ဖြင့် ရွှေကျောင်းတော်ကြီးအဖြစ် ပြုပြင်လျက်ရှိပါသည်။

ထို့အပြင် ဘုရားဖူးများ တည်းခိုနိုင်ရန် နှစ်ထပ်ဆောင်ကြီး အသစ်တစ်ခုကို တည်ဆောက်ခြင်း၊ တရားဟော တရားနာရန် မွှာရုံကြီးတစ်ခု၊ သိမ်တော်ကြီးတစ်ခုနှင့် အခြားသာသနိက အဆောက်အဦးများ ပြုပြင်ထိန်းသိမ်းခဲ့ပါသည်။ အလှူရှင်အပေါင်း သာဓုအနုမောဒနာ ခေါ်နိုင်ကြပါကုန်။

## THE GIFT OF DHAMMA

*Sabbadanam dhamma*
*-dhanam jinati*
***The gift of truth excels all***
***the other gifts.***

Not to do evil
To cultivate good
To purify one's mind,
This is the teachings
of the Buddhas .
***( The Dhammapada)***

In another way
That is to say
It is dāna,
Sila and bāvanā.

Follow the teachings,
Practise day and night.
Your magga ñāna will
increase;
Your Self belief be
erased.

This is the sure way
To the highest happiness,
The final goal of ours;
It is the Nibbana.

**U Aye Maung of Kyaikto.**

### THE BRIEF HISTORY OF THE

# KYAIK-PAW-LAW IMAGE.

### KYAIKTO, MON STATE, MYANMAR.

The history of the Kyaik-Paw-Law Image began over two thousand and three hundred years ago.

The Buddha passed away in B.C. 543 at the age of 80. In BC 323 ie., 220 years after the Buddha's demise (the parinibbana) Asoka, the great emperor of India became the defender of the Buddhist faith and conferred the royal protection on Sanghas, causing all those heretical monks to be expelled from the Order.

The Order (Sasana) was restored to unanimity of communion and upheld the rules of sanctification. For the purpose of holding the third convention of the Sasana (Tatiya Sanghayana) the chief monk, Ashin Maha Moggaliputtatissa selected one thousand monks of sanctified character, perfect in religious knowledge and versed in Tipitaka. Under the patronage of the emperor Asoka, the monks held

the third council at the Asokarama Monastery in Pataliputta. The council was brought to a close in nine months.

The emperor, however, was not satisfied with these meritorious deeds and in order to spread Buddhism abroad he sent nine missions to nine countries, each mission headed by one or two arahats. One of the missions headed by Ashin Sona and Uttara reached Suvannabumi (now known as Thaton in Mon State). The two arahats had done many great tasks in the promotion and development of the Sasana in Myanmar. They entered the parinibbana on a scenic hill about six miles to the north of Bilin, Mon State. Local people often visit and pay homage to the images of the arahats.

One mission headed by Ashin Mahinda who himself was the emperor's son, reached Ceylon (now better known as Sri Lanka). At that time Ceylon was under the rule of King Devanampiyatissa who himself was a devout Buddhist. The king welcomed the mission with pomp and ceremony. That was the first introduction of the Sasana to Ceylon.

After sometime, the king thought that the people of other countries would prosper and do better if they had a chance to worship the images of the Buddha. And thus, the king sought advice from Ashin Mahinda. This being a good idea, Ashin Mahinda willingly agreed and gave an advice that the images should be sent abroad by way of sea route: they might reache the shore where the Buddhism would flourish in the future.

The king, then, arranged for the making of the four images with the skilled sculptors. When completed, the king and the people paid homage to the images for a fortnight. Then, the images were sent off into the vast ocean for the wealth, health and happiness of the people who might have a chance to worship them. { One image was on (the raft of) teak logs and one image on (the raft of) rock dammar logs and the third one on (the raft of) jackfruit logs. This one, the Kyaik-Paw-Law Image, was on (the raft of stone-wheel. So say the legend. The replica stone-wheel can be seen at the southern side of the inner shrine. }

With the help and favour of devas and king of devas one image reached Dawe (Tavoy) a coastal town in Tanintharyi Division and is now known as Shin-Moke-Hti. One image reached Kyaik-Kha-Mi, a small town in Mon State and is now known as Kyaikkhami Yele Phaya. So is the name because the image and shrine rests on the very edge of the Indian Ocean, and is surrounded by water when the tide rises. One image which is now known as Thi-Ho-Shin Phone-daw-pyi Phaya, reached Pathein, the Divisional town in Aye-yar-wady Division and is now situated at the south-western corner of the Shwe-Moke-Htaw Pagoda.

This image, as you now see, reached Kyaikto, a small town on the bank of the wide-mouthed river Sittang and is better known as the Kyaik-Paw-Law Image. The temple is being renovated in Myanmar artistic design so that pilgrims and foreign tourists may appreciate the beauties of the Myanmar traditional art.

# မျောလေးမျောသမိုင်းဝင်

## ကျိုက်ထိုမြို့

## ကျိုက်ပေါလော

## ဗုဒ္ဓရှင်ဓာတ်တော် ဘုရားသမိုင်းအကျဉ်း



### THE BRIEF HISTORY OF THE

# KYAIK-PAW-LAW IMAGE

### KYAIKTO, MON STATE,

### MYANMAR.